(ဃ) ငှားရမ်းသူမှ ငှားရမ်းစဉ်ကာလအတွင်း မြေခွန်မှတစ်ပါး လျှပ်စစ်မီးခွန်၊ စည်ပင်ခွန်၊ လုပ်ငန်းနှင့်ပတ်သက်သော အခွန်အခများ၊ ငှားရမ်းခြင်းအတွက် ကုန်သွယ်ခွန် နှင့် တံဆိပ်ခေါင်းခွန် များ၊ စာချုပ်စာတမ်းရုံးမှတ်ပုံတင်ကြေး တို့ကိုပေးဆောင်ရမည်။

(င) ငှားရမ်းသူသည် ငှားရမ်းကာလမပြည့်မီ ဥပစာများကို စွန့်လွှတ်လျှင်သော်လည်းကောင်း၊ ပြန်လည်ပေးအပ်လျှင်သော်လည်းကောင်း၊ ပေးချေပြီးသော မည်သည့်ငှားရမ်းခကိုမျှ ပြန်လည်ရရှိမည် မဟုတ်ပေ။

၇။ အာမခံတင်သွင်းခြင်း

ဤစာချုပ်အရ ငှားရမ်းခြင်းမှာ နှစ်ပေါင်း (၅၀) ဖြစ်ပြီး အကယ်၍ သက်တမ်းမပြည့်မီ ငှားရမ်းသူမှ ဆက်လက်မငှားရမ်းလို ပါက ၃ လစာနှင့်ညီမျှသောငှားရမ်းငွေအားပေးလျော်ရမည်။

၈။ မလွန်ဆန်နိုင်သောဖြစ်ရပ်

မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ နှစ်ဖက်လုံးမှ မထိန်းချုပ်နိုင်သည့်ဖြစ်ရပ်နှင့် သဘာဝဘေးအန္တရာယ်၊ အကြမ်းဖက်လုပ်ရပ်၊ အစိုးရအာဏာပိုင်၏ ဥပဒေ၊ အမိန့်၊ စည်းမျဉ်းစည်းကမ်းလုပ်ရပ်၊ စစ်ပွဲ (သို့) အရေးပေါ်အခြေအနေ၊ အထိကရုဏ်း၊ ပြည်တွင်းဆူပူ၊ လုယက်၊ ပြန်ပေးဆွဲ၊ ရေကြီး၊ မီးလောင်မှု၊ ပြင်းထန်သောရာသီဥတုအခြေအနေ၊ ကူးစက်ရောဂါ၊ ပိတ်ပင်၊ သပိတ်မှောက်၊ အခြားသော စက်မှုဆိုင်ရာ ပဋိပက္ခများ၊ (စာချုပ်ဝင်များ၏ လုပ်သားအင်အားနှင့်ဆက်စပ်သည်ဖြစ်စေ၊ မဆက်စပ်သည်ဖြစ်စေ) သင်္ဘောသွားလာမှု ပိတ်ပင်ထားခြင်း၊ အကောက်ခွန်အာဏာပိုင်များကြောင့်လည်းကောင်း၊ မတော်တဆမှုကြောင့်လည်းကောင်း၊ ကြန့်ကြာခြင်းတို့ကိုဆိုလိုသည်။ သို့သော်ငှားရမ်းသူ၏ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာသော သပိတ်မှောက်ခြင်း၊ အထိကရုဏ်းဖြစ်ခြင်း၊ အကြမ်းဖက်မှု၊ လုယက်ပြန်ပေးဆွဲမှု၊ ပိတ်ပင်တားဆီးမှုဖြစ်ခြင်း၊ အကောက်ခွန်အာဏာပိုင်များကြောင့်လည်းကောင်း၊ မတော်တဆမှုကြောင့်လည်းကောင်း စသည်တို့သည် Force Majeure တွင် အကျုံးဝင်သည်ဟု မမှတ်ယူရ။

နှစ်ဖက်စလုံး ထိုဖြစ်ရပ်ကြောင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပျက်ကွက်ကြန့်ကြာ၍ တာဝန်မထမ်းဆောင်နိုင်လျှင် စာချုပ်ချိုးဖောက်သည်ဟု မမှတ်ယူရ။ မတားဆီးနိုင်သောဖြစ်ရပ်ကြောင့် နှစ်ဖက်စလုံးမှ ချက်ချင်းဆွေးနွေး၍ မျှတသည့်အဖြေ ဖော်ထုတ်ရန်နှင့် အကျိုးဆက်လျော့ပါးသွားစေရန်အားထုတ်ရမည်။ မလွန်ဆန်နိုင်သာ ဖြစ်ရပ်ကြောင့် ရက်ပေါင်း ၉၀ ကျော်သွားလျှင်စာချုပ်ဝင်များက စာချုပ်အကောင်အထည်ဖော်ရန် ဆွေးနွေးရမည်။ ရက်ပေါင်း ၃၀ အတွင်း သဘောမတူနိုင်လျှင် နှစ်ဖက်လုံးမှ စာချုပ်ကို ချက်ချင်းရပ်စဲပိုင်ခွင့်ရှိရမည်။

၉။ ပိုင်ရှင်၏တာဝန်

(က) အဆိုပါနှစ် ၅၀ ငှားရမ်းကာလအတွင်း ၁၀၆.၄၇ ဧကရှိသော မြေနေရာအတွင်းရှိ မြေကွက်လပ်နေရာများတွင် ငှားရမ်းသူဘက်က ပိုင်ရှင်အားအသိပေးပြီး လိုအပ်သလို ပြင်ဆင်အသုံးပြုနိုင်ပါကြောင်း ပိုင်ရှင်က သဘောတူပါသည်။ မြေကွက်လပ်တွင် အဆောက်အဦးတိုးမြှင့်ခြင်းနှင့်သက်ဆိုင်သေ ကုန်ကျစရိတ်၊ ဆက်စပ်ကုန်ကျစရိတ်များမှာငှားရမ်းသူ၏တာဝန် သာဖြစ်သည်။ ငှားရမ်းကာလအတွင်း အဆောက်အဦး ဆောက်လုပ်မှု၊ ပြင်ဆင်မှုများအတွက် လိုအပ်သော သက်ဆိုင်ရာ အစိုးရ ဌာနများ၏ ခွင့်ပြုမိန့် (ဥပမာ - ရေ၊လျှပ်စစ်၊ဆောက်လုပ်ခွင့်၊ပြင်ဆင်ခွင့်) လျှောက်ထားမှုများအတွက် အဆိုပါမြေကွက်နှင့်ပတ်သက် သောပိုင်ဆိုင်မှု စာရွက်စာတမ်းများအား တင်ပြရခြင်းအတွက် ပိုင်ရှင်ဘက်မှ အခကြေးငွေမယူဘဲ လိုက်လံကူညီဆောင်ရွက်ပေးရပါမည်။

စာမျက်နှာ-၅-သို့ဆက်ရန်

(ခ) ငှားရမ်းသူသည် ပိုင်ရှင် (သို့) ၎င်း၏ကိုယ်စားလှယ်အား သင့်တော်သည့်အချိန်တွင် ကြိုတင်ချိန်းဆို၍ စစ်ဆေးရန်သော်၎င်း အခြားစာချုပ်ဝင်များကို ပြသရန်သော်၎င်း ဝင်ထွက်ခွင့်ပေးရမည်။

(ဂ) ပိုင်ရှင်သည် ငှားရမ်းရငွေ၏ ဝင်ငွေခွန်ကို ပေးဆောင်ရမည်ဖြစ်ပြီး မြေခွန်အခကိုလည်း ပေးဆောင်ရမည်။

(ဃ) ငှားရမ်းခြင်းသက်တမ်းကုန်ဆုံးပြီးနောက် ငှားရမ်းသူဘက်မှ ဆက်လက်ငှားရမ်းလိုပြီး ပိုင်ရှင်မှလည်း ဆက်လက်ငှားရမ်းရန်ဆန္ဒရှိပါက နှစ်ဦးနှစ်ဖက်ပြန်လည်ညှိနှိုင်းပြီး နှစ်ဘက်သဘော တူညီမှုဖြင့် ငှားရမ်းခြင်းသက်တမ်းတိုးခြင်းကို ဆောင်ရွက်နိုင်ပါသည်။

(င) ငှားရမ်းကာလအတွင်း ပိုင်ရှင်မှ ငှားရမ်းသူအား ထိခိုက်ခြင်း မရှိစေသည့်အပြင် ဤမြေနေရာအား ပေါင်နှံ ခြင်း၊

ရောင်းချခြင်း ပြုလုပ်မည်ဆိုလျှင် ငှားရမ်းသူအား စာရွက်စာတမ်းဖြင့် ၆ လ ကြိုတင်အသိပေးရပါမည်။ ပိုင်ရှင်က အဆိုပါမြေနေရာအား ငှားရမ်းကာလအတွင်း ပေါင်နှံခြင်း၊ ရောင်းချခြင်းပြုလုပ်မည်ဆိုလျှင် တူညီသော အခြေနေအောက်တွင် ငှားရမ်းသူကိုဦးစားပေးသည့်အနေဖြင့် အဆိုပါမြေနေရာအား ဦးစွာ ဝယ်ယူခွင့်ပြုမည်ဖြစ်ပါသည်။ သို့ရာတွင် အခြားဝယ်သူ ကမ်းလှမ်းသည့်သူများထက် မနည်းသော တူညီသော ကမ်းလှမ်းမှုဖြစ်ရန် လိုအပ်ပါသည်။

**၁၀။ ကြွေးမြီမဆပ်နိုင်သူ (လူမွဲ) အဖြစ် တရားရုံးမှ ကြေငြာခြင်း။**

ငှားရမ်းသူကို တရားစွဲဆို၍ တရားရုံးမှ ကြွေးမြီမဆပ်နိုင်သူအဖြစ် (သို့) လူမွဲအဖြစ် ကြေငြာခြင်းခံရလျှင် စာချုပ် ကို ချက်ချင်းရပ်စဲရမည်။ ယင်းသို့ စာချုပ်ရပ်စဲပါက စာချုပ်အပိုဒ် (၆) (ဂ)အရ ငှားရမ်းထားသောဥပစာနှင့် ဥပစာပေါ်ရှိ ပစ္စည်းအားလုံးကို ငှားရမ်းသူက ပိုင်ရှင်သို့လက်ရောက်ပေးအပ်ရမည်။ အကယ်၍ ငှားရမ်းသူကို တရားစွဲဆိုမှုနှင့် ပတ်သက်ပြီး ပိုင်ရှင်မှ ဥပစာဆုံးရှုံးခဲ့ရပါက ပိုင်ရှင်မှ ငှားရမ်းထားသည့် ဥပစာတန်ဖိုးအပါအဝင် နစ်နာမှုရှိသည့်အတွက် ကျေနပ်သည် အထိ ပြန်လည်ပေးလျော်ရမည် ဖြစ်သည်။

**၁၁။ လွှမ်းမိုးသည့်ဥပဒေနှင့် တရားစီရင်ပိုင်ခွင့်**

ဤသဘောတူညီမှုစာချုပ်နှင့် ပတ်သက်၍ အခြားဘာသာစကားနှင့် မည်သို့ပင်ချုပ်ဆိုစေကာမူ ဤစာချုပ်အား ဘာသာပြန်ဆိုခြင်းနှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက မြန်မာဘာသာဖြင့် ရေးသားထားသော စာချုပ်ပါအချက်များကို အသုံးပြုပြီး မြန်မာနိုင်ငံ၏တည်ဆဲပြဋ္ဌာန်းဥပဒေများနှင့်အညီ အဓိပ္ပါယ်ဖွင့်ဆိုဖြေရှင်းသတ်မှတ် ရမည်ဖြစ်သည်။ အငြင်းပွားမှုတစ်စုံတစ်ရာဖြစ်ပွားပြီး အနညာတခုံသမာဓိ (Arbitration) ဖြေရှင်းနည်းအားဖြင့် နှစ်ဦး နှစ်ဖက်ဖြေရှင်းလိုပါက မြန်မာဘာသာစကားအသုံးပြု၍ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် ၂၀၁၆ ခုနှစ် အနညာတခုံသမာဓိဥပဒေနှင့်အညီ ဆုံးဖြတ်မည်ဖြစ်ပြီး အနညာတခုံသမာဓိနည်းဖြင့် မဖြေရှင်းနိုင်ပါက (သို့မဟုတ်) မဖြေရှင်းလိုပါက ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများနှင့်အညီ မြန်မာနိုင်ငံအတွင်းတည်ရှိသော တရားရုံးများတွင်သာ ဖြေရှင်းတရားစွဲဆိုခွင့်ရှိပါသည်။

စာချုပ်ဝင်နှစ်ဖက်စလုံးသည် ဤစာချုပ်ကို ဖတ်ရှုနားလည် သဘောတူညီကြောင်း ၎င်းတို့နည်းလမ်းတကျ အခွင့်ပေးထားသော တရားဝင်ကိုယ်စားလှယ်များက ၎င်းတို့၏ လက်မှတ်အသီးသီးကို ရေးထိုးကြပါသည်။

စာမျက်နှာ-၆-သို့ဆက်ရန်






ပိုင်ရှင် (အငှားချထားသူ)

DANA THEIKHTI DEVELOPMENT

COMPANY LIMITED

Company Registration No.105763395

**DAW NWE NWE HLAING**
**Director**
**DANA THEIKHTI DEVELOPMENT COMPANY LIMITED**

ငှားရမ်းသူ (အငှားချထားခြင်းခံရသူ)

STONE KING MINING COMPANY LIMITED

Company Registration No.105794363




အသိသက်သေများ

၁။ လက်မှတ် ----------------------------
အမည် [illegible]
မှတ်ပုံတင် [illegible]-185666
နေရပ် [illegible]
09-784281060

၂။ လက်မှတ် ----------------------------
အမည် [illegible]
မှတ်ပုံတင် [illegible]
နေရပ် [illegible]
09-778667069

နောက်ဆက်တွဲငွေပေးချေမှုဇယား စာမျက်နှာ-၇-သို့




ညွှန် ကြား ရေး မှူး ရုံး
ပတ် ဝန်း ကျင် ထိန်းသိမ်း ရေးဦးစီးဌာန
မွန် ပြည် နယ် ၊ မော် လ မြိုင် မြို့
စာအမှတ်၊ ၇၅/က က ရ/မ ပ န
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၇ ရက်

သို့

ဦးကျော်ဝင်း

လိုပ်သဲလမ်းခင်းကျောက်ထုတ်လုပ်ခြင်းလုပ်ငန်း

မုပွလင်ကျေးရွာအုပ်စု၊ ကျိုက်ထိုမြို့နယ်

**အကြောင်းအရာ။** **သဘောထားမှတ်ချက်အကြောင်းပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ ဦးကျော်ဝင်း ၊ လိပ်သည်းလမ်းခင်းကျောက်ထုတ်လုပ်ငန်း၏ (၃၀-၆-၂၀၁၇) ရက်စွဲပါ တင်ပြစာအရ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဦးကျော်ဝင်း၊ လိပ်သဲလမ်းခင်းကျောက်ထုတ်လုပ်ငန်းမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ သဘောထားမှတ်ချက်ပေးနိုင်ရေးအတွက် မွန်ပြည်နယ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ဦးစိုးဝင်း(လက်ထောက်ညွှန်ကြားရေးမှူး)၊ ဒေါ်ကြည်သာဝင်း( ဒုတိယဦးစီးမှူး)၊ ဒေါ်နန်းစန္ဒာကြည်( အငယ်တန်းစာရေး) (၃-၁၁-၂၀၁၆) ရက်နေ့ တွင် ကွင်းဆင်းစစ်ဆေးခဲ့ပြီး ကွင်းဆင်းစစ်ဆေးချက်ပုံစံအား ပူးတွဲပေးပို့ပါသည်။

၂။ မြေပြင်ကွင်းဆင်းစစ်ဆေးချက်များအရ ပူးတွဲပါကွင်းဆင်းစစ်ဆေးချက်ပုံစံတွင် ပါဝင်သော အပိုဒ်(၂၃)ပါ အကြံပြုချက်များအား လိုက်နာဆောင်ရွက်ခြင်း၊တင်ပြထားသည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် အစီရင်ခံစာအား အတည်ပြုချက်ရရှိပါကယင်းအစီအစဉ်ပါညွှန်ကြားချက်များကိုလိုက်နာမည်ဆိုပါကဦးကျော်ဝင်း၏လိပ်သဲလမ်းခင်းကျောက် ထုတ်လုပ်ခြင်းလုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြုအကြောင်းကြားပါသည်။

(စိုးနိုင်)

ဒုတိယညွှန်ကြားရေးမှူး

မိတ္တူကို

ဝန်ကြီး၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ မွန်ပြည်နယ် အစိုးရအဖွဲ့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်

ရုံးလက်ခံ

မျှောစာတွဲ

**သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန**

**ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန(မွန်ပြည်နယ်)**

**လမ်းခင်းကျောက်ထုတ်လုပ်မှုလုပ်ငန်းပတ်သက်၍ ကွင်းဆင်းစစ်ဆေးမှုအခြေအနေ**

| | | |
|---|---|---|
| ၁။ | **ကွင်းဆင်းစစ်ဆေးသည့်ရက်စွဲ** | - ၂၀၁၆ခုနှစ်၊ နိုဝင်ဘာ ( ၃ ) ရက် |
| ၂။ | **ကွင်းဆင်းစစ်ဆေးသည့်အကြောင်းအရင်း** | - လိပ်သဲကျောက်ထုတ်လိုင်စင်လျှောက်ထားရန် |
| ၃။ | **စက်ရုံ/လုပ်ငန်းအမည်** | - ကျောက်ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄။ | **လုပ်ငန်းအမျိုးအစား** | - လိပ်သဲလမ်းခင်းကျောက်ထုတ်လုပ်ခြင်း |
| ၅။ | **လုပ်ငန်းအရွယ်အစား** | - မြေဧရိယာ (၀.၅၀)ဧက |
| ၆။ | **ပိုင်ရှင်အမည်/ မန်နေဂျာအမည်** | - ဦးကျော်ဝင်း |
| ၇။ | **စက်ရုံ/လုပ်ငန်း၏ အကြောင်း** | |
| | (က) တည်ဆောက်သည့်ခုနှစ်/လ/ရက် | - ၂၀၁၆ ခုနှစ် |
| | (ခ) မြေဧရိယာအကျယ်အဝန်း | - ( ၀.၅၀ ) ဧက |
| | (ဂ) စက်ရုံ/လုပ်ငန်း၏ ပတ်ဝန်းကျင်အခြေအနေ | - အရှေ့ဘက်တွင် ဦးအေးကျော်ခြံမြေ၊ အနောက်ဘက်တွင် ဦးကျော်ဝင်းခြံမြေ၊ တောင်ဘက်တွင် ဦးခင်မောင်ဦးခြံမြေ၊ မြောက်ဘက်တွင် ဒေါ်အိအိခိုင်ခြံမြေ တည်ရှိပါသည်။ |
| | (ဃ) စက်ရုံ/လုပ်ငန်း၏ လိပ်စာအပြည့်အစုံ | - ကျိုက်ထိုမြို့နယ်၊ ကမ်းနီကျေးရွာအုပ်စု၊ ကွင်းအမှတ်(OSS-၂)၊ ကမ်းနီအပြင်ကွင်း |
| ၈။ | **စစ်ဆေးရသည့်အကြောင်းအရင်း** | |
| | (က) ပုဂ္ဂလိကလုပ်ငန်းမှတ်ပုံတင်ခြင်း/ လိုင်စင်သက်တမ်းတိုးခြင်း | - လိပ်သည်းကျောက်ထုတ်လုပ်ငန်းလိုင်စင် အသစ်လျှောက်ထားရန် |
| | (ခ) ပုဂ္ဂလိကလုပ်ငန်းမှတ်ပုံတင်ခြင်းဖြစ်လျှင် | - |
| | (ဂ) လိုင်စင်သက်တမ်းတိုးခြင်းဖြစ်လျှင် | - |
| ၉။ | **အသုံးပြုသည့်လောင်စာအမျိုးအစား** | |
| | (က) လျှပ်စစ် | - 1000 KVA (၂) လုံး |
| | (ခ) ဒီဇယ်အင်ဂျင် | - မရှိပါ ။ |

| | |
|---|---|
| (ဂ) အသုံးပြုသည့်မြင်းကောင်ရေ | - မရှိပါ။ |
| (ဃ) သက်ဆိုင်ရာလျှပ်စစ်ဌာနခွင့်ပြုချက် | - |

၁၀။ **အလုပ်သမား/ဝန်ထမ်း/နေ့စား**

| | |
|---|---|
| (က) အရေအတွက် ( ကျား ) | - ( ၃၅ ) ဦး |
| (ခ) အရေအတွက် ( မ ) | - ( ၅ ) ဦး |
| (ဂ) အသက်အရွယ်အပိုင်းအခြား | -၂၀နှစ်မှ၅၅နှစ်ကြား |

၁၁။ **ကုန်ကြမ်း**

| | |
|---|---|
| (က) အသုံးပြုသည့်ကုန်ကြမ်းအမျိုးအစား | - မြေအောက်ရှိ ကျောက်တောင်မှကျောက်မြေ |
| (ခ) ကုန်ကြမ်းရရှိမှုအခြေအနေ | - ခွင့်ပြုချက် ရရှိထားသော မြေအောက်ရှိ ကျောက်တောင်ဧရိယာမှ ထုတ်ယူပါသည်။ |
| (ဂ) ကုန်ကြမ်းသယ်ဆောင်သည့်စနစ် | - ကျောက်သယ်ယာဉ်ဖြင့် သယ်ဆောင်ပါသည်။ |
| (ဃ) ကုန်ကြမ်းသိုလှောင်ထားရှိမှုစနစ် | - လုပ်ငန်းခွင်နေရာလွတ်၌ စုပုံထားရှိပါသည်။ |

၁၂။ **ထုတ်လုပ်မှုနည်းစနစ်**

| | |
|---|---|
| (က) စက်ပစ္စည်းကိရိယာအသုံးပြုခြင်း | - မြေအောက်ရှိ လိပ်သည်းလမ်းခင်းကျောက် ရရှိသည်အထိ မြေစာများအား စက်ကိရိယာ သုံးဖယ်ရှားခြင်း၊ လေစက်ဖြင့် ဂန်းထိုးပြီး ထွက်ရှိလာသော ကျောက်များကို သတ်မှတ် အနေအထားရောက်အောင် ခွဲစိတ်ဆောင်ရွက် ပြီး ကျောက်သယ်ယာဉ်ဖြင့် သယ်ဆောင်ပါ သည်။ |
| (ခ) လုပ်သားအင်အားကိုအသုံးပြုခြင်း | - မိုင်းခွဲပြီးကျောက်တုံးများအား စက်ယန္တရား များလည်ပတ်ရာတွင် လူအင်အားကိုအသုံးပြု ပါသည်။ |
| (ဂ) စက်ပစ္စည်းကိရိယာ/လုပ်သားအင်အား နှစ်မျိုးစလုံးအသုံးပြုခြင်း | - စက်ပစ္စည်းနှင့်လူအင်အားနှစ်မျိုးအသုံးပြုပါ သည်။ |
| (ဃ)အသုံးပြုသည့်စက်ပစ္စည်းအမျိုးအစား များနှင့်အရေအတွက် | - Wheel Loader(၁) စီး၊ Excavator (၅) စီး၊ Truck (၂၀) စီး၊ Simmons high cone Crusher (၁)ခု၊ Jaw Crusher (၁)ခု၊ Heavy Vibrating Screen (၁) ခု၊ Craler type Hydraulic downhole drilling rig (၁) ခု |

၁၃။ **ကုန်ချော**

| | |
|---|---|
| (က) ကုန်ချောထွက်ရှိမှုပမာဏ | - တစ်နှစ်လျှင် ( ၁၀၀၀၀ ) ကျင်းခန့် ထွက်ရှိ ရန် လျာထားပါသည်။ |
| (ခ) ကုန်ချောသိုလှောင်ထားရှိမှု | - လုပ်ငန်းခွင်အတွင်း နေရာလွတ်၌ သတ်မှတ် အရွယ်အစားအတိုင်း သီးခြားစီ စုပုံထားရှိပါ |

| | |
|---|---|
| | သည်။ |
| (ဂ) တင်ပို့ရောင်းချမှုအခြေအနေ | - ပြည်နယ်အတွင်း အခြားမြို့များရှိဆောက်လုပ်ရေးအတွက်တင်ပို့ရောင်းချရန် လျာထားပါသည်။ |

၁၄။ **စွန့်ပစ်ပစ္စည်း**

| | |
|---|---|
| (က) စွန့်ပစ်ပစ္စည်းအမျိုးအစားများ | - လိပ်သည်းကျောက်တောင်မြေပေါ်ရှိ ခေါင်ပေါင်းမြေစာများထွက်ရှိခြင်း၊ ကျောက်အမှုန့်အမွှားများ ထွက်ရှိခြင်း၊ |
| (ခ) အစိုင်အခဲထွက်ရှိလျှင် ပမာဏ | - ၁ နေ့ (၇) တန် |
| (ဂ) အရည်ထွက်ရှိလျှင် ပမာဏ | - မရှိပါ။ |
| (ဃ) အနံ့ထွက်ရှိမှုအခြေအနေ | - မရှိပါ။ |
| (င) ဆူညံသံထွက်ရှိမှုအခြေအနေ | - ကျောက်ခွဲခြင်းလုပ်ငန်း ကျောက်သယ်ယူပို့ဆောင်သည့် လုပ်ငန်း ဆောင်ရွက်ချိန်များတွင် ဆူညံသံထွက်ရှိပါသည်။ |
| (စ) အခိုးအငွေ့ထွက်ရှိမှုအခြေအနေ | - အသုံးပြုသည့်ယာဉ်/ ယန္တရားများမှ အခိုးအငွေ့အနည်းငယ်ထွက်ရှိပါသည်။ |
| (ဆ) စွန့်ပစ်ရေများကိုထားရှိမှုစနစ် | - မရှိပါ။ |
| (ဇ) စွန့်ပစ်ပစ္စည်းများကို စွန့်ပစ်သည့်စနစ် | - စွန့်ပစ်ပစ္စည်းများဖြစ်သောမြေစာများအားလမ်းမြေဖို့ခြင်းနှင့်လုပ်ငန်းခွင်အတွင်းရှိ ချိုင့်ဝှမ်းများအားမြေဖို့ခြင်းအပြင် မြေစာများအား လုပ်ကွက်ရေိယာ၏ ဘေးတွင် စုပုံထားရှိခြင်း၊ ကျောက်အမှုန်အမွှားများအား လုပ်ကွက်ဧရိယာ၏ဘေးတွင် စုပုံထားရှိခြင်း၊ |
| (ဈ) စွန့်ပစ်ရေကိုပြန်လည်သန့်စင်သည့်စနစ် | - မရှိပါ။ |

| | |
|---|---|
| ၁၅။ **စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ထိခိုက်နိုင်မှု** | - မိုင်းခွဲရာမှထွက်ရှိလာသော အခိုးအငွေ့များ၊ အနံ့အသက်များကြောင့် လေထုညစ်ညမ်းမှုဖြစ်ပေါ်ခြင်း၊ စွန့်ပစ်မြေစာများနှင့် ကျောက်အမှုန့်အမွှားများအား နေရာလွတ်များတွင် အနေ |

| | |
|---|---|
| | အထားမြင့်မြင့်စုပုံထားရှိခြင်းကြောင့် မြေပြိုမှု အန္တရာယ်ကြုံတွေ့နိုင်ခြင်း၊ မိုးရာသီတွင် စွန့်ပစ်မြေစာများကို မိုးရေနှင့်အတူပါရှိပြီး နီးစပ်ရာ ချောင်းများအတွင်း ချောင်းကောနိုင်ခြင်း၊ ရေ အရည်အသွေးကျဆင်းခြင်း၊ |
| ၁၆။ **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ရေးဆွဲထားရှိမှုအခြေအနေ** | - မရှိပါ။ |
| ၁၇။ **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ရေးဆွဲထားခြင်းရှိပါက တင်ပြရန်** | - မရှိပါ။ |
| ၁၈။ **ဝန်ထမ်းများအတွက်ဆောင်ရွက်ထားရှိမှု** | |
| (က) လူမှုရေး | - အလုပ်သမားများ၏ သာရေး၊ နာရေးကိစ္စရပ်များတွင် ကူညီဆောင်ရွက်ပေးသည် ဟု သိရှိရပါသည်။ |
| (ခ) ကျန်းမာရေး | - အခမဲ့ကျန်းမာရေးစနစ်ထားရှိပေးခြင်း၊ လုပ်ငန်းခွင်အတွင်း ဆေးဝါးများထားရှိခြင်း များ ဆောင်ရွက်ပေးထားသည်ဟုသိရှိရပါသည်။ |
| (ဂ) စီးပွားရေး | - ပုတ်ပြတ်၊ နေ့စားများထားရှိပြီး လိုအပ်ပါက ကြိုတင်ငွေထုတ်ပေးခြင်းများ ရှိပါသည်။ |
| (ဃ) လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေး | - စီမံချက်အားသီးခြားရေးဆွဲလိုက်နာ ဆောင်ရွက်သွားရန်နှင့် နှာခေါင်းစည်း၊ အသံလုံနားကြပ်နှင့် လုံခြုံရေးဦးထုပ်များ တပ်ဆင်ပေးခြင်းများပြုလုပ်ပါမည်။ |
| ၁၉။ **မီးဘေးအန္တရာယ်ကာကွယ်ထားရှိမှုစနစ်** | -မီးဘေးအန္တရာယ်ကာကွယ်ရေးစီမံချက်ရေးဆွဲထားရှိမည်ဖြစ်ပြီးစီမံချက်ပါအတိုင်းလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းသိရှိရပါသည်။ |

၂၀။ **လိုက်နာဆောင်ရွက်ရမည့်ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ-**

ပြဌာန်းထားရှိသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး( ထုတ်လွှတ်မှု ) လမ်းညွှန်ချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ပါ သည်။

၂၁။ **စစ်ဆေးတွေ့ရှိချက်များ**

(က) လုပ်ငန်းတည်နေရာသည် မြေလွတ်မြေရိုင်းကျောက်သားမြေဖြစ်၍ စိုက်ပျိုးခြင်းမပြုနိုင်သောမြေဖြစ်ပြီး ပတ်ဝန်းကျင်နေရာတို့တွင် နွယ်ပင်၊ ဝါးပင်၊ အလေ့ကျပေါက်ပင်များရှိကြောင်းတွေ့ရှိရပါသည်။အဆိုပါလုပ်ငန်းသည်မြေသားအောက်ရှိ ကျောက်သားတောင်အောက်ခြေမှ မိုင်းခွဲစနစ်အသုံးပြု၍ ကျောက်ထုတ်လုပ်ခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ခ) အဆိုပြုကျောက်မိုင်းသည် ၂၀၁၆ ခုနှစ်မှစ၍ လုပ်ငန်းများစတင်ဆောင်ရွက်ခဲ့ပြီး လုပ်ငန်းလိုင်စင် လွှဲပြောင်းလျှောက်ထားရန် ဆောင်ရွက်နေကြောင်းတွေ့ရှိရပါသည်။

(ဂ) လိပ်သဲလမ်းခင်းကျောက်ထုတ်လုပ်မည့် လုပ်ငန်းရှင် ဦးကျော်ဝင်း၏ ထုတ်လုပ်ခွင့်ရရှိသည့် ဧရိယာ ( ၀. ၅၀ )ဧကပေါ်တွင် ထုတ်လုပ်မည့် ပမာဏသည် တစ်နှစ်လျှင် ကျောက်ကျင်းပေါင်း( ၁၀၀၀၀ ) ခန့် ထုတ်လုပ်မည် ဖြစ်ကြောင်းသိရှိရပါသည်။ လိပ်သဲ လမ်းခင်းကျောက်ထုတ်လုပ်ရာတွင် တူးဖော်မည့် စက်ယန္တရားများ၊ သယ်ယူပို့ဆောင်ရေးယာဉ်များ၊ ကျောက်ခွဲလုပ်သားစုစုပေါင်းအင်အား (၄၀) ဦးဖြင့် ဆောင်ရွက်နေကြောင်း တွေ့ရှိရပါသည်။

(ဃ) လမ်းခင်းကျောက်ထုတ်လုပ်သည့်နေရာတွင် လတ်တလောအခြေအနေ၌ ကျောက်ထုတ်လုပ်ရေးလုပ်သားများနေထိုင်သည့် အခိုင်အမာလူနေအိမ်များရှိပြီး လုပ်ငန်းလည်ပတ်ချိန်၌ ကျောက်ထုတ်လုပ်သားများအတွက် သက်သာချောင်ချိရေး၊ ကျန်းမာရေး၊ လူမှုရေးလုပ်ငန်းများကိုလည်း လုပ်ငန်းရှင်မှ အဆင်ပြေအောင်ကြိုတင်စီမံထားကြောင်း ပြောကြားချက်အရသိရှိရပါသည်။

(င) လိပ်သဲလမ်းခင်းကျောက်ထုတ်လုပ်မည့် ဧရိယာတွင် အပင်ကြီးမျိုးများမတွေ့ရှိရဘဲ အပင်ငယ်များ၊ ချုံနွယ်များပေါက်ရောက်နေသော လုပ်ကွက်ဧရိယာဖြစ်ပါသည်။ အဆိုပါ လုပ်ငန်းသည်မြေသားအောက်ရှိ ကျောက်သားတောင်အောက်ခြေမှ မိုင်းခွဲစနစ်အသုံးပြု၍ လိပ်သဲကျောက်ထုတ်လုပ်ခြင်းဖြစ်ပြီး အပေါ်ယံခေါင်းပေါင်းမြေစာများအား လိပ်သဲလမ်းခင်းကျောက်ထွက်ပေါ်ရရှိသည်အထိ ပေ၂၀မှ ပေ ၆၀ အထိ ဘက်ဟိုးအသုံးပြု ဖယ်ရှားခြင်း၊ စွန့်ပစ်မြေစာများ၊ ကျောက်အမှုန်အမွှားများအား လုပ်ကွက်ဧရိယာ၏ နေရာလွတ်တွင် အနေအထားမြင့်မြင့်စုပုံထားရှိကြောင်း တွေ့ရှိရပါသည်။

(စ) အဆိုပါလုပ်ငန်းရှင်အနေဖြင့် လိပ်သဲလမ်းခင်းကျောက်သယ်ဆောင်မှုအပေါ် လုပ်ငန်းခွင်အနီးရှိ ကမ်းနီးကျေးရွာမှဒေသခံများက ရွာတွင် လမ်းအတွင်းဖြတ်သန်းမှုကို သဘောတူညီမှုမရရှိသဖြင့် ရွာရှောင်လမ်းအား သီးခြားဖောက်လုပ်သယ်ဆောင်ကြောင်းသိရှိရပါသည်။

(ဆ) ထွက်ရှိလာသော လိပ်သဲလမ်းခင်းကျောက်များကို မွန်ပြည်နယ်အတွင်းအပြင် ရန်ကုန်တိုင်းဒေသကြီး၊ ပဲခူးတိုင်းဒေသကြီးရှိ ဟံသာဝတီလေဆိပ်တည်ဆောက်ရေးလုပ်ငန်းတွင်တင်ပို့ရောင်းချသွားမည်ဖြစ်ကြောင်း သိရှိရပါသည်။

၂၂။ သုံးသပ်တင်ပြချက်များ

(က) Open Pit ကဲ့သို့ တွင်းကြီး၊ ချိုင့်ကြီးများဖြစ်အောင် တူးဖော်ခြင်းသည် သဘာဝပတ်ဝန်းကျင်ဆိုင်ရာ ရှုခင်းပသာဒနှင့် မြေဆီလွှာတည်မြဲမှု၊ ထိခိုက်မှုများအား ဖြစ်ပေါ်စေပြီး နီးစပ်ဧရိယာ များ၌ရေတိုက်စားခြင်း၊ ကမ်းပါးပြိုတိုက်စား၍ တောင်ပြိုခြင်း အန္တရာယ်ရှိနိုင်ပါသည်။

(ခ) လိပ်သဲလမ်းခင်းကျောက်ထုတ်လုပ်မည့် ဧရိယာတွင် အပင်ကြီးမျိုးများမတွေ့ရှိရဘဲ အပင်ငယ်များ၊ ဝါး၊ ချုံနွယ်များပေါက်ရောက်နေသော လုပ်ကွက်ဧရိယာဖြစ်ပြီး ဘတ်ဟိုးထိုးဖယ်ရှားဆောင်ရွက်ခြင်း၊ မြေသားအောက်ရှိ ကျောက်သားတောင် အောက်ခြေမှ မိုင်းခွဲစနစ်အသုံးပြု၍ လိပ်သဲကျောက် ထုတ်လုပ်ခြင်းဖြစ်ပြီး အပေါ်ယံခေါင်းပေါင်း မြေစာများအား လိပ်သဲလမ်းခင်း ကျောက်ထွက်ပေါ်ရရှိသည်အထိ ပေ၂၀မှ ပေ ၆၀ အထိ ဘတ်ဟိုးအသုံးပြု ဖယ်ရှားခြင်း၊ စွန့်ပစ်မြေစာများ၊ ကျောက်အမှုန်အမွှားများအား လုပ်ကွက်ဧရိယာ၏ နေရာလွတ်တွင် အနေအထားမြင့်မြင့်စုပုံထားရှိကြောင်း တွေ့ရှိရပါသည်။

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာ၌ ကျောက်ထုတ်ခြင်းလုပ်ငန်းအဆင့်ဆင့်တွင် စက်သုံးဆီ ၊ ယမ်းကဲ့သို့သောကုန်ကြမ်းပစ္စည်းများ အသုံးပြုမည်ဖြစ်သောကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ရေထုနှင့်လေထုတို့အားညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ပြီးလုပ်ငန်းအဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ်ပါသဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

(ဃ) ကျောက်ထုတ်လိုင်စင်ခွင့်ပြုချက်ရရှိပါက နိုင်ငံတော်မှသတ်မှတ်ကောက်ခံသော မြေခွန်နှုန်းထားများ ရရှိမည်ဖြစ်ပြီး ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများတွင် အရေးပါသည့် ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းတည်ဆောက်ရေးလုပ်ငန်းများအား အထောက်အကူပြုခြင်း၊ ဒေသခံများလမ်းလုပ်ငန်း၊ ကျောက်ထုတ်လုပ်ငန်းများတွင် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေပြီး ဒေသခံပြည်သူများ ဝင်ငွေတိုးတက်မှု ရရှိရေးတွင် အထောက်အကူဖြစ်စေကြောင်း သုံးသပ်တွေ့ရှိရပါသည်။

## ၂၃။ အကြံပြုတင်ပြချက်များ

ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းအရ ဆောက်လုပ်ရေး အဆောက်အဦ တည်ဆောက်ရေးနှင့် ကြွေထည်၊ မြေထည်လုပ်ငန်းသုံးကုန်ကြမ်းပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ( Aggregate ) ၊ ထုံးကျောက်၊ သင်ပုန်းကျောက်၊ ရွှံ့စေး ၊ စကျင်ကျောက်၊ မျောကျောက်၊ သဲကျောက်၊ လိပ်သဲကျောက် ( နမ်းဖတ်ကျောက် )၊ မြေစေးဖြူ၊ Bentonite၊ သလင်း ကျောက်နှင့် ( Quartzite )များ ထုတ်လုပ်ခြင်းလုပ်ငန်းတွင် ကနဦးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( IEE ) ပြုလုပ်ရန်လိုအပ်သည့်အရွယ်အစား ထုတ်လုပ်မှုဧရိယာ ဧက( ၂၀၀ ) အောက်နှင့် တစ်နှစ်လျှင် ထုတ်လုပ်မှု တန်ချိန် ( ၁၀၀၀၀၀ ) အောက်အားလည်းကောင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( EIA ) ပြုလုပ်ရန်လိုအပ်သည့် အရွယ်အစားအား ထုတ်လုပ်မှုဧရိယာဧက ( ၂၀၀ ) နှင့် အထက် တစ်နှစ်လျှင် ထုတ်လုပ်မှုတန်ချိန် ( ၁၀၀၀၀၀ ) နှင့် အထက်ဟု လည်းကောင်းပြဋ္ဌာန်းထားပြီး လက်ရှိအဆိုပြုလုပ်ငန်းမှာ-အထက်ပါ( IEE )နှင့်( EIA )ပြုလုပ်ရန် သတ်မှတ်အရွယ်အစားတွင် ( IEE ) သတ်မှတ်ချက်၌ မပါဝင်သော်လည်း တစ်နှစ်လျှင် လိပ်သဲ ကျောက်ထုတ်လုပ်မည့် ဧရိယာမှာ (၁.၅၀) ဧကခန့်ရှိခြင်း၊ ထုတ်လုပ်မည့်ကျောက်ကျင်းပေါင်းမှာ (၁၀၀၀၀) ရှိသဖြင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan-EMP)ကိုပြည့်စုံစွာရေးဆွဲ၍အကောင်အထည်ဖော်ဆောင်ရွက်ရမည်ဖြစ်ပါသည်။ လမ်းခင်းကျောက် ထုတ်လုပ်ရာတွင် မူလပတ်ဝန်းကျင် အနေအထားကိုအနည်းနှင့် အများထိခိုက်မည်ဖြစ်၍ လုပ်ငန်း ရှင်မှ အောက်ဖော်ပြပါအကြံပြုချက်များ လိုက်နာဆောင်ရွက်ရန်လိုအပ်ပါသည်-

(က) လိပ်သဲလမ်းခင်းကျောက်ထုတ်လုပ်မည့် ဧရိယာတွင် အပင်ကြီးမျိုးများမတွေ့ရှိရသဲ အပင်ငယ်များ၊ ချုံနွယ်များပေါက်ရောက်နေသော လုပ်ကွက်ဧရိယာဖြစ်ပြီး ဘတ်ဟိုးအသုံးပြုဖယ်ရှားဆောင်ရွက်သဖြင့် ထွက်ရှိလာသော စွန့်ပစ်မြေစာများနှင့် ကျောက်အမှုန့်အမွှားများကြောင့် အနီးဝန်းကျင်ရှိ ကျေးရွာများ၏ စမ်းချောင်းများထိခိုက်နိုင်သဖြင့် နုန်းစစ်တားကန်များ ထားရှိဆောင်ရွက်ရန်၊

(ခ) အပေါ်ယံခေါင်းပေါင်း မြေစာများအား လိပ်သဲလမ်းခင်းကျောက်ထွက်ပေါ်ရရှိသည် အထိ ပေ ၂၀ မှ ပေ ၆၀ အထိ ဘတ်ဟိုးအသုံးပြု ဖယ်ရှားဆောင်ရွက်ရသဖြင့် မြေပြိုမှုအန္တရာယ်ကြုံတွေ့နိုင်သဖြင့် မြေကာထိန်းအပင်များဖြစ်သည့် Vertiva မြက်များ၊ ကန်စွန်းနွယ်ပင်များ၊ နတ်မြွားပင်များစသည်မြေကုပ်တွယ်ပင်များ စိုက်ပျိုးရန် ၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာ၌ ကျောက်ထုတ်ခြင်းလုပ်ငန်းအဆင့်ဆင့်တွင် စက်သုံးဆီ ၊ ယမ်းကဲ့သို့သောကုန်ကြမ်းပစ္စည်းများ အသုံးပြုမည်ဖြစ်သောကြောင့် သက်ဆိုင်ရာ၏ ခွင့်ပြုချက်နှင့်အညီဆောင်ရွက်ရန်၊

(ဃ) လုပ်ငန်းအဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်ရခြင်း၊ ယာဉ်ယန္တရားများဖြစ်သည့် ကျောက်သယ်ယာဉ်များ၊ ကြိတ်ခွဲစက်များ အသုံးပြုဆောင်ရွက်ရခြင်းတို့

ကြောင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်နိုင်သဖြင့် အသံလုံနားကြပ်များ တပ်ဆင်အသုံးပြုဆောင်ရွက်ရန် ၊

(င) စက်ယန္တရားများ အသုံးပြုဆောင်ရွက်ခြင်း၊ မိုင်းအသုံးပြုဆောင်ရွက်ခြင်း တို့ကို ညအချိန် ၌ ဆောင်ရွက်ခြင်းမပြုရန်၊

(စ) လိပ်သဲလမ်းခင်းကျောက် ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်မှုသည် ဖွံ့ဖြိုးရေးကို အထောက်အကူပြုလုပ်ငန်းဖြစ်သော်လည်း ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများကို ဦးစားပေးဆောင်ရွက်ခြင်း၊ ဒေသခံပြည်သူများနှင့် ပေါင်းစပ်ညှိနှိုင်း ဆောင်ရွက်ခြင်းနှင့် လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးစီမံချက်ရေးဆွဲ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဆ) ကျောက်မိုင်းခွဲခြင်းနှင့်ပတ်သက်၍ ပေါက်ကွဲစေတတ်သော ခဲယမ်း၊ မီးကျောက်အက်ဥပဒေ (၁၈၈၇)၊ ပေါက်ကွဲစေတတ်သော ဝတ္ထုပစ္စည်းများ အက်ဥပဒေ (၁၉၀၈) အတိုင်း အတိအကျလိုက်နာသွားရန်၊

(ဇ) လုပ်ငန်းခွင်အန္တရာယ်ကင်းရှင်းရေး စီမံဆောင်ရွက်ရန်နှင့် ကျောက်တူးဖော်ရာမှ ထွက်ရှိသည့်အမှုန်အမွှားများကြောင့် လုပ်သားများ အသက်ရှူလမ်းကြောင်းဆိုင်ရာ ပြဿနာများမဖြစ်ပေါ်စေရန် နှာခေါင်းစည်း(Mask)များ တပ်ဆင်ခြင်းကြီးကြပ်ဆောင်ရွက်သွားရန်၊

(ဈ) ရေတိုစီမံချက်အနေဖြင့် ကျောက်ထုတ်လုပ်ခြင်းအနီးပတ်ဝန်းကျင်ရှိ ကွက်လပ်နေရာများ၌ အပင်များကိုနှစ်စဉ် စိုက်ပျိုးရန်နှင့် အဆိုပါအပင်များ ရှင်သန်အောင်ပြုစုထိန်းသိမ်း ဆောင်ရွက်ရန်အပြင် ရေရှည်စီမံချက်အနေဖြင့် မိုင်းပိတ်သိမ်းချိန်တွင် တူးဖော်ထုတ်လုပ်ခဲ့သောနေရာများအား စနစ်တကျ မြေပြုပြင်၍ အပင်များစိုက်ပျိုးဆောင်ရွက်သွားရန်

(ည) အဆိုပါကျောက်ထုတ်လုပ်ခြင်းမှာ မိုင်းအလတ်စားအား အသုံးပြုထားသော်လည်း ကျောက်မိုင်းခွဲနေစဉ် အန္တရာယ်ရှိနိုင်သော နေရာသတ်မှတ်ပြီးအနီးအနားရှိ အများပြည်သူများသို့ သတိပေးဆောင်ရွက်သွားရန်နှင့် သတိပေးဆိုင်းဘုတ်များအသုံးပြုသွားရန်၊ ယမ်းထိန်းသိမ်းသိုလှောင်ထားရှိရာတွင် သက်ဆိုင်ရာ၏ ခွင့်ပြုချက်ဖြင့်သာ ဆောင်ရွက်ရန်၊

(ဋ) ရေဦးရေထွက်နေရာများ၌ လုပ်ငန်းဆောင်ရွက်ခြင်းမပြုရန်၊ ရေစီးရေလာထိခိုက်နိုင်သည့် လျှိုမြောင်စမ်းချောင်းတောင်စောင်းများရှိ အပင်များခုတ်လှဲခြင်းမပြုလုပ်ရန်၊

(ဌ) အစိုးရစီမံခန့်ခွဲမှုရှိသော ကြေးတိုင်မြေအတွင်း လမ်းခင်းကျောက်ထုတ်လုပ်မှုနှင့် ပတ်သက်၍အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ စည်းကမ်းချက်များနှင့် သတ္တုတွင်းဦးစီးဌာန၏ လုပ်ထုံးလုပ်နည်းသတ်မှတ်ချက်များနှင့်အညီ လိုက်နာရန် လိုအပ်ပါသည်။

(ဍ) သတ်မှတ်ပေးထားသောမြေဧရိယာမှ အပ ကျန်ဧရိယာများတွင် ကျောက်တူးဖော်ခြင်း၊ အခိုင်အမာဆောက်လုပ်ခြင်းမပြုရန်၊

(ဎ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) ကို ရေးဆွဲ၍ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

၂၄။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထားမှတ်ချက်များ**

မြေပြင်ကွင်းဆင်းစစ်ဆေးချက်အရ ပူးတွဲပါကွင်းဆင်းစစ်ဆေးချက်ပုံစံတွင်ပါဝင်သော အပိုဒ် (၂၃)ပါပြုပြင်ဆောင်ရွက်ရမည့်ကိစ္စရပ်များအား လိုက်နာဆောင်ရွက်ရန်၊ ကျောက်မိုင်း ဖောက်ခွဲမှုနှင့် ပတ်သက်သည့် မိုင်းသုံးစွဲမှုအား သက်ဆိုင်ရာဌာနများ၏ဥပဒေ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်းအတိုင်း ခွင့်ပြုချက်လိုင်စင်ရရှိပြီးမှသာ လုပ်ငန်းဆောင်ရွက်သွားရန် ၊ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan- EMP)အား ပတ်ဝန်း ကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (နေပြည်တော်) သို့ အစီရင်ခံစာ ရေးသားတင်ပြရန်နှင့် ၎င်းအစီရင်ခံစာနှင့်ပတ်သက်၍ ဝန်ကြီးဌာန၏ ညွှန်ကြားချက်များအတိုင်း ဆက်လက်လိုက်နာဆောင်ရွက်မည်ဆိုပါက ဦးကျော်ဝင်း၏ လိပ်သဲလမ်းခင်းကျောက်ထုတ်လုပ်ငန်း ထုတ်လုပ်ခွင့် လျှောက်ထားခြင်းအား ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက်ပြု အကြောင်းကြားပါသည်။

ဦးကျော်ဝင်း၏ ဧရိယာ (၀.၅၀)ဧက ၊ ကျင်း (၁၀၀၀၀) ထုတ်လုပ်မည့် ကျောက်မိုင်း

ဧရိယာအား ကွင်းဆင်းစစ်ဆေးနေသည့် မှတ်တမ်းဓာတ်ပုံ





(ပိုင်ရှင်) [illegible]

လက်မှတ် - [signature]

အမည် - [illegible]

မှတ်ပုံတင်အမှတ် - [illegible]

နေရပ်လိပ်စာ - [illegible]

(စစ်ဆေးသူ)

လက်မှတ်- [signature]

အမည် - ဦးစိုးဝင်း

ရာထူး - လက်ထောက်ညွှန်ကြားရေးမှူး

ဌာန - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန




# မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ ကမ်းနီကျေးရွာအနီးတွင် လည်ပတ်လျက်ရှိသောရွှေကမ်းနီလမ်းခင်းကျောက်ထုတ်လုပ်ရေး နှင့်ပက်သက်၍ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination -IEE) အတွက် ပမာဏကွင်းဆင်းတွေ့ရှိချက် နှင့် လူထုတွေ့ဆုံပွဲပြုလုပ်မှုမှတ်တမ်း

**မှတ်တမ်းပြုစုသူ**




**Ever Green Tech Environmental Services and Training Co., Ltd.**

No.14 (1st Floor), Thiri Myine 8th Road, 13th Quarter, HlaingTsp., Yangon, Myanmar
Phone:0943106929,09799700171, 0991019166
Email- green.evergreentech@gmail.com

August, 2018

## မာတိကာ

## ၁။ နိဒါန်း

ရွှေကမ်းနီကုမ္ပဏီလီမိတက်မှ တည်ဆောက်လည်ပတ်လျက်ရှိသည့်ရွှေကမ်းနီလမ်းခင်းကျောက်ထုတ်လုပ်ရေး (ရွှေကမ်းနီကျောက်မိုင်း)နှင့်ပက်သက်၍ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination – IEE) အား Ever Green Tech Environmental Services Co., Ltd. မှ တာဝန်ယူလုပ်ဆောင်လျက်ရှိပါသည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းအရ ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်းများလုပ်ဆောင်ရာတွင်အဓိကလိုအပ်ချက်တစ်ခုအဖြစ်လူထုတွေ့ဆုံပွဲများပြုလုပ်သွားရမည်ဖြစ်ပြီး ဒေသခံလူထု၏ပူးပေါင်းပါဝင်မှုအား ရယူသွားရမည်ဖြစ်ပါသည်။ ယခုအခါ ပထမအကြိမ်လူထုတွေ့ဆုံပွဲပြုလုပ်ပြီးဖြစ်၍အဆိုပါဆွေးနွေးပွဲမှရလာဒ်များအားစိတ်ပါဝင်စားသူများလေ့လာပြီးဒုတိယအကြိမ်လူထုတွေ့ဆုံပွဲတွင် ပိုမိုဆွေးနွေးအကြံပြုနိုင်ရေးအတွက် ပြုစုဖြန့်ဝေခြင်းဖြစ်ပါသည်။

## ၂။ ပထမအကြိမ်လူထုတွေ့ဆုံဆွေးနွေးပွဲအစီအစဥ်များ

မွန်ပြည်နယ်၊ ကျိုက်ထိုမြို့နယ်၊ သထုံစုကျေးရွာအနီး၊ ပေါ်ကုန်း ဘုန်းတော်ကြီးသင် စာသင်တိုက် အတွင်း (၂၂.၇.၂၀၁၈) ရက်နေ့တွင်ပြုလုပ်ခဲ့သော ပထမ အကြိမ်လူထုတွေ့ဆုံပွဲ အခမ်းအနားအစီအစဥ် များနှင့် တွေ့ဆုံဆွေးနွေးချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

### (က) တွေ့ဆုံပွဲ အခမ်းအနားအစီအစဥ်

တွေ့ဆုံပွဲအခမ်းအနားအစီအစဥ် အား နောက်ဆက်တွဲ (က) တွင်တင်ပြထားပါသည်။

### (ခ) တွေ့ဆုံပွဲတက်ရောက်သူများစာရင်း

ဒေသဆိုင်ရာအစိုးရအဖွဲ့အစည်းများ၊စည်ပင်သာယာရေးနှင့်ဖွံ့ဖြိုးတိုးတက်ရေးအထောက်အကူပြုအဖွဲ့အစည်းများ၊ ရပ်မိရပ်ဖများ၊ အစိုးရမဟုတ်သော အဖွဲ့အစည်းများမှ စုစုပေါင်း (၁၁၀)ဦးခန့် တက်ရောက်ခဲ့ပါသည်။

### (ဂ) ဆွေးနွေးမှုပုံစံနှင့် မှတ်တမ်းထားရှိမှုများ

ဆွေးနွေးမှုပုံစံအား တက်ရောက်လာသူများ မှ အစည်းအဝေးကျင်းပနေစဥ်အတွင်း မိမိသိလိုသိများနှင့် အကြံပြုလိုသည်များကို ကိုယ်တိုင်ကိုယ်ကျ ဆွေးနွေးခြင်းနှင့် စာဖြင့် အကြံပြုဆွေးနွေးခြင်းဟူ၍ (၂) မျိုးစီစဥ်ထားရှိပါသည်။ ဆွေးနွေးမှုမှတ်တမ်းများအား စာဖြင့်မှတ်တမ်းတင်ခြင်း၊ အသံသွင်းမှတ်တမ်းတင်ခြင်း၊ဓါတ်ပုံ/ဗွီဒီယိုဖြင့်မှတ်တမ်းထားရှိခြင်း နှင့် အကြံပြုစာများအား စနစ်တကျထိန်းသိမ်းထားရှိခြင်းအစရှိသည်များဖြင့်မှတ်တမ်းထားရှိပြီး အစီရင်ခံစာပြုစုရာတွင် ထည့်သွင်းရေးဆွဲသွားမည်ဖြစ်ပါသည်။

## ၃။ တွေ့ဆုံပွဲမှ အဓိကဆွေးနွေးချက်များ

တက်ရောက်လာသူအသီးသီးမှ တွေ့ဆုံဆွေးနွေးပွဲ ကျင်းပစဥ်အတွင်း အဓိကထားဆွေးနွေးချက်များနှင့် သက်ဆိုင်သူများမှ ပြန်လည်ဖြေကြားချက်များအား အောက်ပါဇယားတွင် ဖော်ပြထားရှိပါသည်။

| စဉ် | တင်ပြဆွေးနွေးသူ / အဓိကဆွေးနွေးချက်များ |
|---|---|
| ၁။ | ဦးမင်းသိန်းထွန်း ( လက်ထောက်ညွှန်ကြားရေးမှူး၊ ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန) နှင့် ဦးဖောင်းလွှမ်း (ဦးစီးအရာရှိ၊ မြို့နယ်သစ်တောဦးစီးဌာန) တို့မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာ ဆောင်ရွက်ရန်လိုအပ်မှုများနှင့်ပတ်သက်ပြီး အမှာစကားပြောကြားကြပါသည်။ |
| ၂။ | ဦးခင်မောင်သန်း (အကြံပေး၊ ရွှေကမ်းနီကုမ္ပဏီ)<br>- ယခင်က ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်မှုဆိုင်ရာလုပ်ငန်းစဉ်များ ဆောင်ရွက်ခဲ့မှု မရှိသော်လည်းယခုအခါဆောင်ရွက်နေပြီဖြစ်ကြောင်း၊<br>- ယခင်ကလိုက်နာလုပ်ဆောင်ရမည့်ကိစ္စများအားမသိရှိခဲ့သဖြင့် ဆောင်ရွက်မှုမရှိခဲ့ ခြင်းအား တောင်းပန်လိုပါကြောင်း၊<br>- ဒေသခံများနှင့် ရင်းနှီးစွာဆွေးနွေးပြီး ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊<br>- ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများအားဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပြီးဒေသခံများအကျိုးရှိမည့်လုပ်ငန်းများအားဒေသခံများနှင့်တိုင်ပင်လုပ်ဆောင်သွားမည်ဖြစ်ကြောင်း တင်ပြပါသည်။ |
| ၃။ | ဦးကျော်မင်းနိုင် (ရွှေကမ်းနီကုမ္ပဏီ)<br>- ဒေသတွင်းတွင်လုပ်ငန်းများလာရောက်လည်ပတ်သဖြင့် ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများဖြစ်ပေါ်စေလိုပါကြောင်း၊ရပ်မိရပ်ဖများနှင့်တိုင်ပင်ပြီးစည်းလုံးစွာဖြင့် ဒေသဖွံ့ဖြိုးရေးများ ဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြသွားပါသည်။ |
| ၄။ | ဒေါက်တာကျော်စွာတင့် (Ever Green Tech)<br>- ပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်မှု ပြုလုပ်ရခြင်း ရည်ရွယ်ချက်<br>- ထိခိုက်မှုဆန်းစစ်ခွင့်ရှိသော တတိယအဖွဲ့အစည်းများ၏ လိုက်နာရမည့်ကျင့်ဝတ်များနှင့် လုပ်ထုံး လုပ်နည်းများ<br>- ပတ်ဝန်းကျင်မူလအရည်အသွေးများအား မှတ်တမ်းတင်ထားရှိခြင်း<br>- လမ်းခင်းကျောက်ထုတ်လုပ်ခြင်းလုပ်ငန်းစဉ်အဆင့်ဆင့်<br>- လမ်းခင်းကျောက်ထုတ်လုပ်ခြင်းလုပ်ငန်းစဉ် အဆင့်ဆင့် (မြေနေရာရှင်းလင်းခြင်း၊ ကျင်းတူးခြင်း နှင့် ယမ်းခွဲခြင်း၊ ကျောက်ကြိတ်ခွဲခြင်း၊ ကျောက်သယ်ယူခြင်း) ကြောင့်ပတ်ဝန်းကျင်ထိခိုက်နိုင်မှုများနှင့် ကာကွယ်လုပ်ဆောင်ရန်နည်းလမ်းများ၊<br>- လူထုပူးပေါင်းပါဝင်နိုင်ရန် ဆောင်ရွက်ခဲ့မှု မှတ်တမ်းများ၊ ကွင်းဆင်းလေ့လာမှု ရလဒ်များအား ရှင်းလင်းတင်ပြပါသည်။ |

| | |
|---|---|
| ၄။ | ဒေါက်တာကိုမြင့် (ကထိက၊ ရန်ကုန်တက္ကသိုလ်)<br>- စီမံကိန်းကြောင့် ပတ်ဝန်းကျင်ရှိ အပင်နှင့် တိရိစ္ဆာန် ဇီဝမျိုးစိတ်များအပေါ် ထိခိုက်လာနိုင်မှုများ၊<br>- ကနဦးမှတ်တမ်းတင်ထားရှိသော အပင်နှင့် ဇီဝမျိုးစိတ်များစာရင်းကောက်ယူထားရှိမှု၊<br>- နိုင်ငံတော်မှ ကာကွယ်ထိန်းသိမ်း ထားသော ရှားပါးစာရင်းဝင် ဇီဝမျိုးစိတ်များ ကောက်ယူရရှိမှုအခြေအနေအား ရှင်းလင်းတင်ပြသွားပါသည်။ |

*တွေ့ဆုံပွဲအတွင်းတက်ရောက်လာသူများမှဆွေးနွေးချက်များနှင့်သက်ဆိုင်သူများမှပြန်လည်ဖြေကြားချက်များ*

| စဉ် | ဆွေးနွေးသူ / အဓိကဆွေးနွေးချက်များ | ပြန်လည်ဖြေကြားသူ/ဖြေကြားချက် |
|---|---|---|
| ၁။ | ဦးလှသိန်း (ကျွကြီးကျေးရွာ)<br>- ဘုန်းတော်ကြီးသင်ပညာရေးကျောင်းမှ ဆရာ/မ များ၊ စျေးရောင်းသူများ၊ကျောင်းသူ/သားများအဓိကထားအသုံးပြုနေသောလမ်းမအားပြုပြင်ပေးစေလိုကြောင်း၊<br>- လမ်းပေါ်တွင်မောင်းနှင်နေသော ကျောက်သယ်ကားများ အား စနစ်တကျ မောင်းစေလို ကြောင်း၊<br>- စည်းကမ်းမဲ့မောင်းနှင်မှုကြောင့် ဒေသခံများယာဉ်အန္တရာယ်စိုးရိမ်<br>- ရကြောင်း<br>- ကျောက်မှုန့်များလွင့်မှုအားထိန်းသိမ်းဆောင်ရွက်ပေးရန်ဆွေးနွေးပါသည်။ | ဦးကျော်ဝင်း (ဧကာ၁၀၀ ကုမ္ပဏီတာဝန်ရှိသူ)<br>- ကျောက်မိုင်းမှ ကားများအနေဖြင့် ကျွကြီးလမ်းအား အသုံးပြုမှုနည်းပါးကြောင်း၊ အခြား မိုင်းများမှ လုပ်ငန်းရှင်များနှင့် တိုင်ပင်ပြီး ပြုပြင်ပေးသွားမည် ဖြစ်ကြောင်း၊ အချိန်ပေး စောင့်ပေးပါရန် မေတ္တာရပ်ခံပါကြောင်း။ |

| | | |
|---|---|---|
| ၂။ | ဦးအောင်နိုင်ဦး (သထုံစုကျေးရွာ)<br>- ကမ်းနီဒေသရှိကုမ္ပဏီများမှကျောက်သယ်လမ်းဖောက်လုပ်ပြီးပါက ဒေသဖွံ့ဖြိုးရေး အတွက် နှစ်စဉ်သုံးစွဲပေးမည်ဟု ကတိပြုထားရာမည်မျှ သုံးစွဲနေသည်ကို သိလိုပါကြောင်း၊<br>- ရေစီးဆင်းမှုကောင်းရန် ရေမြောင်းသေချာပြုလုပ်ပေးစေလို | ဦးခင်မောင်သန်း (အကြံပေး၊ စကာဝဝ ကျောက်မိုင်း)<br>- CSRလုပ်ငန်းများအားအကျိုးအမြတ်၏ရာခိုင်နှုန်းတခုအားဒေသဖွံ့ဖြိုးရေး<br>- အတွက် ဆောင်ရွက်သွားမည်ဖြစ်သဖြင့်စောင့်ဆိုင်းပေးစေလိုပါကြောင်း<br>- လမ်းပြုပြင်ရန်အတွက် အခြားမိုင်းများအား ဦးဆောင်မှုပြုပေးပြီး အကောင်းဆုံးဖြစ်စေရန် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း၊ |
| | ဒေါ်ကြည်ဝင်း (သထုံစုကျေးရွာ)<br>- မိုင်းလုပ်ငန်းစဉ်များအားဓာတုကင်းစင်သောလုပ်ငန်းဖြစ်စေလိုကြောင်း၊<br>- CSR လုပ်ငန်းများဆောင်ရွက်မည်ဆိုပါက လူထုပါဝင်သော အဖွဲ့ နှင့် ဆောင်ရွက်စေလိုကြောင်း၊တဦးတယောက်တည်းကိုသာပေးအပ်လိုက်ပါက အများသိရှိရန်ခက်ခဲပါကြောင်း | ဦးခင်မောင်သန်း (အကြံပေး၊ စကာဝဝ ကျောက်မိုင်း)<br>- CSRများအားလုပ်ပေးခဲ့ရာတွင်အများသိသည်များရှိသကဲ့သို့မသိရှိသည်များလည်း ရှိနိုင်ပါကြောင်း၊ နောင်တွင်အများသိရှိနိုင်ရန်ချပြဆွေးနွေးပြီး ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊<br>- ဒေသခံများပါဝင်သော အဖွဲ့အား ညှိနှိုင်းပေးအပ်သွားမည်ဖြစ်ပါကြောင်း။ |
| | ဒေါ်သကြာန်ဦး (သထုံစုကျေးရွာ)<br>-ကျောက်သယ်လမ်းထိပ်တွင်နေထိုင်ရာ သက်ကြီးရွယ်အို မိခင်နှင့်အတူနေထိုင်ပါကြောင်း၊<br>- ကျောက်လမ်းခင်းပေးမည့် အစီအစဉ်အား မည်သည့်အချိန်တွင်စတင်မည်ကိုသိရှိလိုပါကြောင်း၊<br>- ယခင်နှစ်နွေရာသီက မိခင်ဖြစ်သူမှာ ဖုန်မှုန့်များကြောင့် ဆေးခန်းပြနေရကြောင်း၊ | ဦးကျော်မင်းနိုင် (စကာဝဝ ကုမ္ပဏီတာဝန်ရှိသူ)<br>- ဆောင်ရွက်ပေးမည်ဖြစ်ပါကြောင်း၊ အခြားမိုင်းများနှင့် ညှိနှိုင်းဆောင်ရွက်ရမည် ဖြစ်သဖြင့် အချိန်ပေးစေလိုပါကြောင်း၊ |

| | | |
|---|---|---|
| | ဒေါ်မြင့်ကြည် (ကျွဲကြီးကျေးရွာ)<br>- ကျောက်မိုင်းဘေးတွင်ခြံလုပ်ငန်းလုပ်ကိုင်နေပါကြောင်း၊ကျောက်မိုင်းခွဲသည့်အချိန်တိုင်း ကျောက်စထိမှန်မည်စိုးရိမ်နေရပြီး ရှောင်တိမ်းနေရကြောင်း၊<br>- လုပ်ငန်းပြန်လည်လုပ်ကိုင်မည်ဆိုပါက အထူးသတိပြုဆောင်ရွက်ပေးစေလိုပါကြောင်း | ဒေါက်တာကျော်စွာတင့် (Ever Green Tech)<br>- လုပ်ငန်းရှင်အနေဖြင့် ထိခိုက်မှုဆန်းစစ်သောအဖွဲ့မှ ဖော်ပြထားသောနည်းလမ်းများအား လိုက်နာရန်လိုအပ်ပါကြောင်း<br>- လိုအပ်ပါကထုတ်လုပ်မှုအားလျှော့ချရန်အထိပါအကြံပြုထားပါကြောင်း။<br>- အကြံပြုချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ထိခိုက်နိုင်မှုများ လျော့နည်း သွားမည်ဖြစ်ကြောင်း ဆွေးနွေးပါသည်။ |
| | ဦးအောင်မျိုးဦး (ကမ်းနီကျေးရွာ)<br>- ဒေသတွင်းအလုပ်အကိုင်များရရှိနိုင်သဖြင့်ကြိုဆိုပါကြောင်း၊လုပ်ခလစာများအားလည်း သင့်တင့်သောနှုန်းဖြင့် ခန့်ပေးစေလိုကြောင်း<br>- ကမ်းနီရွာလမ်း (ပုဂံ ဘုရားမှသွားသောလမ်း) အားပြုပြင်ပေးစေလိုပါ<br>- ကြောင်း | ဦးကျော်ဝင်း (စက၁၀၀ ကုမ္ပဏီတာဝန်ရှိသူ)<br>- လမ်းပြုပြင်ပေးမည်ဖြစ်ပါကြောင်း၊လုပ်ငန်းများအဆင်ပြေစေရန်ဒေသခံများမှ ကူညီပေး စေလိုပါကြောင်း ဆွေးနွေးပါသည်။ |
| | ဦးညွန့်ရွှေ (ကမ်းနီကျေးရွာ)<br>- ယခုတွေ့ဆုံပွဲတွင် ရွှေကမ်းနီတခုတည်းသာ ပြောဆိုနေရပါကြောင်း၊ ကျောက်မိုင်းအများမှ စုပေါင်းဆောင်ရွက်ပေးရန်လိုအပ်ပါကြောင်း။<br>- တိုက်ရိုက်ထိခိုက်မှုရှိသော ခြံပိုင်ရှင်များနှင့် ပြေလည်အောင်ဆောင်ရွက်စေလိုပါကြောင်း | ဒေါက်တာကျော်စွာတင့် (Ever Green Tech)<br>- ကမ်းနီ၊သထုံစုမှဒေသခံများပါဝင်သောအဖွဲ့အားဖွဲ့စည်းပြီးအသိပေးညှိနှိုင်း ဆောင်ရွက်ခြင်းဖြင့် အဆင်ပြေမည်ဖြစ်ပါကြောင်း၊<br>- |

| | | |
|---|---|---|
| | - ကျောက်သယ်လမ်း၊ကျောက်မိုင်းသည်သထုံစုတွင်ဖြစ်သော်လည်းကမ်းနီကိုသာ ထောက်ပံ့ပေးနေသလိုဖြစ်နေပါကြောင်း၊<br>- မျှတစွာဆောင်ရွက်ပေးစေလိုပါကြောင်း။ | ဦးခင်မောင်သန်း (အကြံပေး၊ စက၁၀၀ ကျောက်မိုင်း)<br>- ဒေသခံများမှ ယုံကြည်ရသောသူများ အမည်စာရင်းပေးစေလိုကြောင်း၊<br>- အဖွဲ့ဖွဲ့ပေးပြီး ဒေသဖွံ့ဖြိုးရေး၊ နစ်နာသူများအား ညှိနှိုင်းပေးရေးများ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ |
| | ဦးစိုးပိုင် (ကမ်းနီကျေးရွာ)<br>- ယခုပွဲသည် ရွှေကမ်းနီအတွက်သီးသန့်ပြုလုပ်သောပွဲလား၊ ကျောက်မိုင်းအားလုံးကိုယ်စားပြုပါသလား၊ | ဦးခင်မောင်သန်း (အကြံပေး၊ စက၁၀၀ ကျောက်မိုင်း)<br>- ရွှေကမ်းနီအတွက်သာရှင်းလင်းခြင်းဖြစ်ပါကြောင်း၊ အခြားကျောက်မိုင်းများအားကိုယ်စားပြုခြင်းမရှိပါကြောင်း ဆွေးနွေးပါသည်။ |
| | ဦးခင်မောင်သန်း (အကြံပေး၊ စက၁၀၀ ကျောက်မိုင်း)<br>- ဆွေးနွေးပွဲအား အချိန်ပေးတက်ရောက်ဆွေးနွေးပေးကြပါသဖြင့် အထူးပင်ကျေးဇူးတင်ရှိပါကြောင်း၊<br>- လိုအပ်ချက် များအား ရင်းနှီးစွာ ဆွေးနွေးအကြံပြုပေးပါသဖြင့် များစွာကျေးဇူးတင်ရှိပါကြောင်း၊<br>- ဒေသခံများပါဝင် သော ဖွံ့ဖြိုးရေးအဖွဲ့ဖြင့် ဒေသကောင်းကျိုးများ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ပြောကြားသွားပါသည်။ | |

## ၄။ စာဖြင့်ရေးသားအကြံပြုချက်များမှ ကောက်နှုတ်ချက်များ

ဆွေးနွေးပွဲအတွင်း အကြံပြုစာများရေးသားချက်မှ ကောက်နုတ်ထားရှိမှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဉ် | အကြံပြုထားသည့်ကဏ္ဍ | အကြံပြုချက် |
|---|---|---|
| ထိခိုက်မှုများ | | |
| ၁။ | မြေတုန်ခြင်း၊ ကျောက်စများပျံ့လွင့်ခြင်း၊ အသံ၊ အမှုန်အမွှား (အနီးရှိစိုက်ခင်းများ) | - ထိခိုက်မှုနည်းစေရန် ကပ်လျက်ရှိသောမြေများဝယ်ယူပြီး သတ္တုတွင်းဧရိယာအားတိုးချဲ့ပေးပါရန်၊<br>- အနီးနားရှိဥယျာဉ်ခြံပိုင်ရှင်များနှင့်တွေ့ဆုံဆွေးနွေးပေးပါရန်၊<br>- ယမ်းလျှော့ခွဲရန်၊ |
| ၂။ | မြေတုန်ခြင်းအက်ကွဲမှု များ | - ယမ်းလျှော့ခွဲပေးပါရန်၊ |
| ၃။ | ကျောက်သယ်ယူရာလမ်းတစ်လျှောက် ထိခိုက်မှုများ (အသံဆူညံခြင်း၊ ဖုန်ထခြင်း) | -ကားသမားများအားလမ်းစည်းကမ်းနှင့်အညီအရှိန်လျှော့ရာယ်ကင်းစွာရှာအဝင်၊ အထွက်များအားဖြေးညင်းစွာမောင်းနှင်ရန်ထိန်းချုပ်ပေးပါ<br>- ကားအဝင်အထွက်ချိန်သတ်မှတ်ပေးပါရန်<br>- ကွန်ကရစ်လမ်းအားအနည်းဆုံးကျေးရွာဘောလုံးကွင်း(သထုံစု)ထိတိုင်အောင်ခင်းပေးပါရန်၊ |
| လိုလားချက်များ | | |
| | ဒေသဖွံ့ဖြိုးရေး | - CSR ရံပုံငွေလှူဒါန်းမှုအားကျေးရွာပြည်သူအများသိရှိနိုင်ရန်ပွင့်လင်းမြင်သာစွာလှူဒါန်းပေးပါရန် နှင့် ကော်မတီတရပ်ဖွဲ့စည်းလှူဒါန်းပေးပါရန်<br>- လှူဒါန်းမှုတိုင်းအား ကျေးရွာပြည်သူအများသိရှိစေရန် လှူဒါန်းပေးပါရန် |
| | အလုပ်အကိုင်အခွင့်အလမ်း | - ဒေသခံလူထုအားအလုပ်အကိုင်ဖန်တီးပေးပါရန် |
| | | - |

## ၅။ ကွင်းဆင်းဆောင်ရွက်ခြင်းနှင့်လူထုတွေ့ဆုံပွဲမှတွေ့ရှိချက်အကျဉ်းချုပ်

လူနေရပ်ကွက်များအတွင်းသို့ ကွင်းဆင်းဆောင်ရွက်ခြင်း နှင့် ပထမအကြိမ်လူထုတွေ့ဆုံဆွေးနွေးပွဲ မှ အောက်ပါအချက်များအား တွေ့ရှိရပါသည်။

(က) ရွှေကမ်းနီကျောက်မိုင်းသည် ယခင်က ယမ်းခွဲနည်းစနစ်အမှားအချို့နှင့်ထုတ်လုပ်မှုအသားပေးထုတ်လုပ်ခဲ့ခြင်းတို့ကြောင့် ပတ်ဝန်းကျင်နေလူထု (အထူးသဖြင့် အနီးရှိစိုက်ခင်းရှိ အပင်နှင့် လူနေအိမ်များ) သို့ ထိခိုက်မှုအချို့ရှိခဲ့ပါသည်။

(ခ) ဒေသခံများသည် ကျောက်မိုင်းကြောင့်ထိခိုက်ခဲ့မှုများအား တာဝန်သိစွာဖြင့် တာဝန်ယူပေးရန် လိုလားကြပြီး ကျောက်မိုင်းအား ပိတ်သိမ်းစေလိုသော ဆန္ဒမရှိကြောင်းတွေ့ရှိရပါသည်။

(ဂ) အနီးအနားစိုက်ခင်းရှိ ဒေသခံများအနေဖြင့်လည်း မတော်တဆထိခိုက်မှုများအား အမြဲတစေ ဖြေရှင်းနေရခြင်းမျိုးအား အလိုမရှိကြပဲ ကျောက်မိုင်းမှ သင့်တင့်သည့်နှုန်းထားဖြင့် ထိခိုက်မှုရှိနိုင်သော စိုက်ခင်းများအား ဝယ်ယူစေလိုကြကြောင်းတွေ့ရှိရပါသည်။

(ဃ) အနီးရှိစိုက်ခင်းများမှအဓိက စိုးရိမ်မှုများ အနေဖြင့် မြေတုန်ခါခြင်း၊ အသံဆူညံမှု၊ ကျောက်စလွင့်စင်ခြင်း၊ အမှုန်အမွှားပျံ့လွင့်ခြင်းတို့ကြောင့် လူ့အသက်အန္တရာယ်၊ကျန်းမာရေးနှင့်စိုက်ခင်းများအပေါ်ထိခိုက်မှုတို့ဖြစ်ပါသည်။

(င) လမ်းတစ်လျှောက်ရှိ ကျေးရွာ (အထူးသဖြင့် သထုံစုကျေးရွာလမ်းဆုံနေရာ)သည်ကျောက်သယ်ယာဉ်များ သွားလာမှုကြောင့် နွေရာသီ နှင့် ဆောင်းရာသီတွင် ဖုန်မှုန့်များထခြင်း နှင့် ညဖက်တွင်သွားလာမှုကြောင့် အသံဆူညံခြင်းတို့ခံစားရကြောင်းတွေ့ရှိရပါသည်။ သို့သော်လည်း ကျောက်ကားများသည် ရွှေကမ်းနီကျောက်မိုင်းတစ်ခုတည်းမှ သွားလာခြင်းမဟုတ်ပဲ အနီးအနားရှိ အခြားကျောက်မိုင်းများမှလည်း သွားလာကြောင်းတွေ့ရှိရပါသည်။

## ၆။ ဆန်းစစ်မှုလုပ်ဆောင်သည့်အဖွဲ့မှသုံးသပ်ချက်

(က) ထိခိုက်မှုသည် အနီးအနားရှိ စိုက်ခင်းများမှဒေသခံများအား ထိခိုက်မှုနှင့် အနီးရှိကျေးရွာများမှ ဒေသ ခံများအား ထိခိုက်မှုဟူ၍ (၂) မျိုးခွဲခြားနိုင်ပါသည်။

(ခ) ကျောက်မိုင်းပတ်လည်ရှိ စိုက်ခင်းများသည် မြေကြီးတုန်ခါခြင်း၊ အသံဆူညံခြင်း၊ ကျောက်မှုန့်များပျံ့လွင့်ခြင်း အစရှိသည့်ထိခိုက်မှုများအား ပုံမှန်ခံစားရပြီး ကျောက်စများလွင့်စင်ခြင်းအား ရံဖန်ရံခါခံစားရကြောင်းတွေ့ရှိရပါသည်။ အဆိုပါထိခိုက်မှုများကြောင့် အနီးစိုက်ခင်းရှိလူများ အထိတ်အလန့်ဖြစ်ခြင်း၊ ကျန်းမာရေးထိခိုက်ခြင်း၊ စိုက်ခင်းများထိခိုက်ခြင်း၊ ကျောက်စများကြောင့် ဘေးအန္တရာယ်ရှိနိုင်ခြင်း စသည် တို့ ထိခိုက်မှုရှိခဲ့ပါသည်။

(ဂ)ကျောက်မိုင်းနှင့်အတန်ငယ်ကွာဝေးသောကျေးရွာ(ကမ်းနီကျေးရွာ)အနေဖြင့်မြေကြီးတုန်ခါမှုတစ်မျိုးတည်းကို သာခံစားရပါသည်။

(ဃ) သထုံစုကျေးရွာသည် ကျောက်သယ်ကားများ ကျောက်များသယ်ယူမှုကြောင့် ရွာအဝင်လမ်းရှိနေအိမ်များအနေဖြင့် အသံဆူညံခြင်း၊ ဖုန်ထခြင်းအစရှိသောထိခိုက်မှုများအပြင်ယာဉ်မတော်တဆအန္တရာယ်များပါ တွေ့ကြုံခံစားနေရပါသည်။ သို့သော်လည်း ကျောက်သယ်လမ်းသည် အခြားသော ကျောက်မိုင်းများလည်းအသုံးပြုသဖြင့် အဆိုပါထိခိုက်မှုသည် ပေါင်းစပ်ဖြစ်ပေါ်လာသော ထိခိုက်မှုမျိုးဖြစ်ပါသည်။

## ၇။ လျှော့နည်းသက်သာစေရန်လုပ်ဆောင်နိုင်သည့်နည်းလမ်းများ

(က) မြေကြီးတုန်ခါမှုသည် ထိခိုက်မှုခံစားရသူအားလုံးသက်ရောက်မှုရှိသော ထိခိုက်မှု ဖြစ်ပါသည်။ မြေကြီးတုန်ခါမှုသည် ယမ်းခွဲနည်းစနစ်မှားယွင်းခြင်း နှင့် ယမ်းအသုံးပြုမှု များပြားခြင်း (၂) မျိုးစလုံးကြောင့် ဖြစ်ပေါ်ခြင်းဖြစ်ပါသည်။ ထို့ကြောင့် ယမ်းခွဲနည်းစနစ်အား ယမ်းခွဲကျွမ်းကျင် ပညာရှင်များ နှင့် ရေးဆွဲပြီး အတွေ့အကြုံရှိသော ယမ်းခွဲ ပညာရှင်ဖြင့်သာ ခွဲစေရမည်ဖြစ်ပါသည်။ ယမ်းခွဲနည်းစနစ် မှန်ကန်သော်လည်း မြေကြီးတုန်ခါမှုလျော့ကျခြင်းမရှိသေးပါက ယမ်းအသုံးပြုမှု (ကျောက်ထုတ်လုပ်မှု) အားလျှော့ချရမည်ဖြစ်ပါသည်။

(ခ) ယမ်းခွဲနည်းစနစ်မှန်ကန်ပါက (သို့မဟုတ်) ယမ်းအသုံးပြုမှုလျှော့ချပါက ကျောက်စလွင့်စင်ခြင်း၊ အသံဆူညံခြင်း၊ အမှုန်အမွှားပျံ့လွင့်ခြင်းများလည်း လျော့နည်းလာမည်ဖြစ်ပါသည်။

(ဂ) ကျောက်ခွဲစက်မှု အသံဆူညံခြင်း နှင့် အမှုန်အမွှားပျံ့လွင့်မှုတို့အား လျှော့နည်းသက်သာစေရန် ကျောက်ခွဲစက်နှင့် ကျောက်ကြိတ်စက်တို့အား အလုံပိတ်စနစ်ပြုလုပ်ခြင်း၊ ရေဖြန်းစနစ် (သို့) လေစုပ်စနစ်တပ်ဆင်ခြင်း အစရှိသည်တို့ဖြင့်လျှော့နည်းသက်သာစေရန် လုပ်ဆောင်နိုင်ပါသည်။ ညဖက်တွင်လည်း ပတ်ခြင်းမပြုရန်လည်း အထူးသတိပြုရမည်ဖြစ်ပါသည်။

(ဃ) မည်သို့ပင်ထိန်းချုပ်စေကာမူ ကျောက်တွင်းအနီးကပ်လျက်ရှိသော စိုက်ခင်းများသည် မြေတုန်ခါခြင်း၊ အမှုန်အမွှားပျံ့လွင့်ခြင်း၊ အသံဆူညံခြင်း၊ ရံဖန်ရံခါ ကျောက်စများလွင့်စင်နိုင်ခြင်းများ အနည်းငယ်ရှိနေနိုင်သေးသဖြင့် ဖြစ်နိုင်ပါက အနီးရှိစိုက်ခင်းများအားဝယ်ယူပြီး စိုက်ခင်းများနှင့် ကျောက်မိုင်းကပ်လျက်အနေအထားမျိုးမရှိစေပဲ ကြားခံမြေနေရာ ထားရှိပေးရမည်ဖြစ်ပါသည်။ ဝယ်ယူလိုက်သော စိုက်ခင်းများမှ သစ်ပင်များအားလည်းခုတ်လှဲခြင်းမပြုပဲ ထိခိုက်မှုကာကွယ်သည့် အကာအရံ အနေဖြင့်ထားရှိရမည်ဖြစ်ပါသည်။

(င)အကြောင်းအမျိုးမျိုးကြောင့်ကပ်လျက်ရှိမြေနေရာများအား ဝယ်ယူခြင်းမပြုနိုင်ပါကမိုင်းအတွင်းယမ်းခွဲခြင်းအား နည်းစနစ်မှန်စွာဖြင့် ယမ်းအသုံးပြုမှု အား အနည်းဆုံးဖြစ်စေရန် လုပ်ဆောင်ရမည့် အပြင် ကျောက်စများလွင့်ပျံ့မှုမရှိစေရန် ယမ်းခွဲကျင်းမျက်နှာအဖွင့်အား အဆိုပါစိုက်ခင်းများဆီသို့လုံးဝ မျက်နှာမူခြင်းမပြုရပါ။ ယမ်းခွဲရာမှ အမှုန်အမွှားများ စိုက်ခင်းများဆီသို့မရောက်ရှိစေရန် လေတိုက်သည့်ဘက် နှင့် လေတိုက်နှုန်းအား အမြဲဂရုပြုရမည်ဖြစ်ပါသည်။ မြေကြီးတုန်ခါမှု အနည်းဆုံးဖြစ်စေရန်လည်း သတိပြုရမည်ဖြစ်ပါသည်။ လိုအပ်ပါက ထုတ်လုပ်မှုအားလျှော့ချရမည်ဖြစ်ပါသည်။

(စ) ကျောက်သယ်ယာဥ်များ သွားလာမှုကြောင့် လမ်းတစ်လျှောက် ဖုန်ထခြင်း နှင့် အသံဆူညံခြင်းများအားလျှော့နည်းသက်သာစေရန် ရွှေကမ်းနီကျောက်မိုင်း နှင့် အခြားကျောက်မိုင်းများ အားလုံးစုပေါင်း ပြီး ကျောက်သယ်လမ်းအား ကွန်ကရစ်လမ်းအဖြစ်အဆင့်မြှင့်တင်ပြုပြင်ခြင်း၊ ကျောက်သယ်ကားများအား တန်ချိန်သတ် မှတ်ခြင်း၊ လိုအပ်ပါက ရွာအနီးအနားတွင် ရေဖြန်းပေးခြင်း၊ သထုံစုကားလမ်းမသို့အထွက်

တံတားသည် အနည်းငယ်နိမ့်နေသဖြင့် ကားများအသံပိုမိုဆူညံခြင်းကြောင့် တံတားနှင့်လမ်းအမြင့်တူညီစေရန်ပြုပြင်ပေးရမည်ဖြစ်ပါသည်။ ကျောက်သယ်ယာဥ်များ သထုံစုကားလမ်းမကြီးသို့အထွက်တွင် အရှိန်လျှော့ကုန်း (Slow Down) ထားရှိပေးရမည်ဖြစ်ပါသည်။

## ၈။ သုံးသပ်အကြံပြုချက်

ကွင်းဆင်းဆောင်ရွက်မှုများ လူထုတွေ့ဆုံပွဲ ရလာဒ်များအရလည်း ဒေသခံလူထုများမှာ ကျောက်မိုင်းအား လည်ပတ်ခြင်းရပ်တန့်စေလိုသော ဆန္ဒမျိုးမရှိပဲ ထိခိုက်မှုလျော့နည်းသက်သာစေရန်သာ လုပ်ဆောင်ပေးစေလိုကြောင်းတွေ့ရှိရပါသည်။ ထို့ကြောင့် ရွှေကမ်းနီ ကျောက်မိုင်းအနေဖြင့် ယမ်းခွဲနည်းစနစ်မှန်ကန်စေရန်ပြုလုပ်ခြင်း၊ အနီးကပ်လျက်ရှိစိုက်ခင်းများအားဝယ်ယူပြီး အကာအရံဇုန်အဖြစ်ထားရှိခြင်း၊ မြေတုန်ခါမှုအနည်းဆုံးဖြစ်စေရန် ယမ်းခွဲနည်းစနစ် မှန်ကန်ပါက ကျောက်လွှာဆက်စပ်မှုကြောင့် တုန်ခါမှုများနေသေးပါက ယမ်းအသုံးပြုမှုအားလျှော့ချရမည်ဖြစ်ပါသည်။ ကျောက်ခွဲစက် တွင်လည်း အသံနှင့်အမှုန်အမွှားလျှော့ချခြင်းဆိုင်ရာ စနစ်များ တပ်ဆင်ပေးရမည်ဖြစ်ပါသည်။

## ၉။ နိဂုံး

အထက်ဖော်ပြပါတွေ့ရှိချက်များသည် တတိယအဖွဲ့အစည်း၏ ပြီးပြည့်စုံသည့်တွေ့ရှိချက်မျိုးမဟုတ်သေးပဲ ကွင်းဆင်းဆောင်ရွက်ချက်များ၊ ပထမအကြိမ်တွေ့ဆုံပွဲ ရလာဒ်များ၊တတိယအဖွဲ့အစည်းမှပညာရှင်များ၏ အကြမ်းဖျင်းသုံးသပ်ချက်များအား အခြေခံပြီး ဒုတိယအကြိမ်တွေ့ဆုံပွဲတွင် ပိုမို ပြည့်စုံစွာ ဆွေးနွေးနိုင်ရေးအတွက် ပြုစုထားခြင်းမျှသာ ဖြစ်ပါသည်။ ပြီးပြည့်စုံသော အစီရင်ခံစာ မဟုတ်သေးသည့်အတွက် လိုအပ်ချက်များအား ဒုတိယအကြိမ်တွေ့ဆုံပွဲတွင် ဖြည့်စွက်ဆွေးနွေးပေးကြပါရန် တင်ပြအပ်ပါသည်။




Dr. Kyaw Swar Tint
Principal Environmental and Social Consultant
Ever Green Tech Environmental Services and Training Co., Ltd.

## နောက်ဆက်တွဲ (က)

## အခမ်းအနားအစီအစဉ်

**နေ့စွဲ။** ။ ၂၂၊ ၇၊ ၂၀၁၈

**အချိန်။** ။ မနက် (၉ း၀၀)နာရီ

**နေရာ။** ။ ပေါ်ကုန်းဘုန်းတော်ကြီးသင်စာသင်တိုက်

၁။ လူထုတွေ့ဆုံပွဲ အခမ်းအနား ဖွင့်လှစ်ကြောင်း ကြေငြာခြင်း။

၂။ တက်ရောက်လာသည့်အကြီးအကဲတစ်ဦးမှ အဖွင့်အမှာစကားပြောကြားခြင်း။

၃။ စီမံကိန်းလုပ်ငန်းအကြောင်းအရာနှင့် ပက်သတ်၍ ကုမ္ပဏီတာဝန်ရှိသူတစ်ဦးမှ ရှင်းလင်းတင်ပြခြင်း။

၄။ စီမံကိန်းလုပ်ငန်းနှင့်ပက်သတ်၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ အကြောင်းအရာများကို Ever Green Tech Environmental Services and Training Co., Ltd မှ ဒေါက်တာကျော်စွာတင့်နှင့် ပညာရှင်အဖွဲ့ဝင်များမှ ရှင်းလင်းတင်ပြခြင်း။

၅။ အနီးအနားရှိကျေးရွာများမှ စီမံကိန်းလုပ်ငန်းနှင့် ပက်သတ်၍ သိရှိလိုသော အကြောင်းအရာများကို ဆွေးနွေးမေးမြန်းခြင်း နှင့် တာဝန်ရှိသူများမှ ပြန်လည်ဆွေးနွေးဖြေကြားခြင်း။

၆။ အခြားတက်ရောက်လာသူများမှ သိရှိလိုသည်များအားမေးမြန်းခြင်းနှင့် တာဝန်ရှိသူများမှ ပြန်လည်ရှင်းလင်း ဖြေကြားခြင်း။

၇။ ရွှေကမ်းနီကျောက်ထုတ်လုပ်ရေးကုမ္ပဏီမှတာဝန်ရှိသူတစ်ဦး မှ ကျေးဇူးတင်စကား ပြောကြားခြင်း။

၈။ အခမ်းအနားအစီအစဉ် ပြီးမြောက်ကြောင်းကြေငြာခြင်း။

## နောက်ဆက်တွဲ (ခ)

## ပထမအကြိမ် တွေ့ဆုံဆွေးနွေးပွဲမှတ်တမ်းဓါတ်ပုံများ





